**အကြောင်းအရာ။** ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Great Wall-Tomorrow Hi-Tech Agriculture Company Limited မှ မျိုးစပါးစိုက်ပျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Great Wall-Tomorrow Hi-Tech Agriculture Company Limited |
| | ကမကထပြုသူ | - Great Wall-Tomorrow Hi-Tech Agriculture Company Limited |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Great Wall International Co.,Ltd. (မြန်မာ) ၅၅%<br>Jiangsu Mingtian Seeds Science & Technology Co., Ltd. (China) ၄၅% |
| | လုပ်ငန်းအမျိုးအစား | - မျိုးစပါးစိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ကွင်းအမှတ်- ၇၃၁/၁၆၉၇၊ ၇၃၅/၁၆၂၄၊ မကျီးကံကွင်း ၊ ကွင်းအမှတ် ၇၃၀/၁၇၅၃၊ ဇရပ်နီကွင်း၊ တအိမ်တည်းကျေးရွာအုပ်စု ၊ ကွင်းအမှတ်-၇၉၀၊ စီတီးမြောက်ကွင်း၊ စီတီးကျေးရွာအုပ်စု ၊ စစ်ကိုင်းမြို့နယ် ၊ စစ်ကိုင်းတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးထွန်းထွန်းဝင်း |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၁၀၀ ဧက |

| စဉ် | ကျေးရွာ အုပ်စု | ကွင်းအမှတ် | မြေအမျိုးအစား | | စုစုပေါင်း ဧက |
|---|---|---|---|---|---|
| | | | လယ် | ယာ | |
| က | တအိမ်တည်း ကျေးရွာအုပ်စု | ၇၃၁/၁၆၉၇၊ ၇၃၅/၁၆၂၄ (မကျီးကံ ကွင်း) | ၅၄.၅၂ | ၂၇.၁၅ | ၈၁.၆၇ |
| ခ | တအိမ်တည်း ကျေးရွာအုပ်စု | ၇၃၀/၁၇၅၃ (ဇရပ်နီကွင်း) | ၀.၄၅ | ၂.၉၂ | ၃.၃၇ |
| ဂ | စီးတီးကျေးရွာ အုပ်စု | ၇၉၀(စီတီး မြောက်ကွင်း) | ၁၃.၂၅ | ၁.၇၁ | ၁၄.၉၆ |
| | စုစုပေါင်း | | ၆၈.၂၂ | ၃၁.၇၈ | ၁၀၀ |

| | | |
|---|---|---|
| ၄။ | နှစ်စဉ်မြေငှားရမ်းခ | - ကျပ် ၁၅.၄၈ သန်း<br>- (တစ်နှစ်တစ်ဧကလျှင် ၁၅၄၈၀၀ ကျပ်နှုန်း) |
| | မြေငှားရမ်းကာလ | - ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |

| | | |
|---|---|---|
| ၅။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - အမေရိကန်ဒေါ်လာ ၅.၀၀ သန်း |
| | | US$(သန်း) |
| | | ပြည်တွင်း / ပြည်ပ |
| | ငွေသား | ၀.၆၄၅ / ၂.၂၅၀ |
| | စက်ပစ္စည်း | ၁.၁၀၅ |
| | အဆောက်အဦး | ၁.၀၀၀ |
| | စုစုပေါင်း | ၂.၇၅၀ / ၂.၂၅၀ |
| ၇။ | ဝန်ထမ်းအင်အား | **- ၁၇၄ ဦး** |
| | ပြည်တွင်း | - ၁၇၀ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၄ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁,၉၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ် ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - GW-1 rice seeds / Regular rice seeds |
| | ပြည်တွင်း | - ၈၄ % / ၁၀၀ % |
| | ပြည်ပ | - ၁၆ % / - |
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် | (ပြည်တွင်း) |

(ပြည်တွင်း)

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Kg) ပြည်တွင်း | ရောင်းချမည့် ဈေးနှုန်း (Kyats/Kg) |
|---|---|---|---|
| (က) | GW-1 rice seeds(1 Kg) | ၅၀၀,၀၀၀ | ၃,၂၀၀ |
| (ခ) | Regular rice seeds (1 Kg) | ၃၀,၀၀၀ | ၆၀၀ |

(ပြည်ပ)

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Kg) ပြည်ပ | ရောင်းချမည့် ဈေးနှုန်း (US$/Kg) |
|---|---|---|---|
| (က) | GW-1 rice seeds(1 Kg) | ၁၀၀,၀၀၀ | ၂.၁၇ |

| | | |
|---|---|---|
| ၉။ | အခြားတင်ပြချက် | - Great Wall-Tomorrow Hi-Tech Agriculture Company Limitedနှင့် ဦးထွန်းထွန်းဝင်းတို့ကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) နှင့် Great Wall International Company Limited(GW) နှင့်Jiangsu Mingtian Seeds Science & Technology Company Limited(JMSST)တို့အကြား ချုပ်ထားသည့် ဖက်စပ်စာချုပ်တို့အား တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် ဦးထွန်းထွန်းဝင်း အမည်ဖြင့် မြန်မာနိုင်ငံ ရေဝတီဘဏ်တွင် ၂၈-၅-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၉၄,၇၃၇,၈၇၂.၃၅ ရှိကြောင်းနှင့် Jiangsu Mingtian Seeds Science & Technology Co.,Ltd အမည်ဖြင့် Agricultural Bank of China Limitedတွင် ၄-၁၁-၂၀၁၆ ရက်စွဲဖြင့် ယွမ် ၂၆,၁၅၄,၄၃၂.၃၆(US$ ၃,၉၆၂,၇၉၂.၇၈) ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူးလက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- Great Wall-Tomorrow Hi-Tech Agriculture Co.,Ltd ၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူ၊ MOA, AOA အား တင်ပြထားပါသည်။<br>- Great Wall-Tomorrow Hi-Tech Agriculture Co.,Ltdမှ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်တို့အား တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ဦးထွန်းထွန်းဝင်းအမည်ဖြင့် လယ်ယာမြေလုပ်ကိုင်ခွင့်ပြုထားသည့် မြေအထောက်အထားများအား တင်ပြထားပါသည်။<br>- ပြည်ပမှမျိုးစေ့၊ ပိုးသတ်ဆေးနှင့် ဓာတ်မြေသြဇာများကို တင်သွင်းမည်ဖြစ်ပါသည်။<br>- ကုမ္ပဏီမှ Environmental Protection Arrangements of the Project တင်ပြထားသော်လည်း ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ သဘောထားအတိုင်း လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ အ-၀၃၂ /၂၀၁၈( ၃၀၁ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၃ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Great Wall-Tomorrow Hi-Tech Agriculture Company Limited တည်ထောင်ကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မျိုးစပါးစိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု တင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Great Wall-Tomorrow Hi-Tech Agriculture Company Limited မှ ကွင်းအမှတ်-၇၃၁/၁၆၉၇၊ ၇၃၅/၁၆၂၄၊ မကျီးကံကွင်း၊ ကွင်းအမှတ်-၇၃၀/၁၇၅၃၊ ဇရပ်နီကွင်း၊ တအိမ်တည်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၇၉၀၊ စီတီး မြောက်ကွင်း၊ စီတီးကျေးရွာအုပ်စု၊ စစ်ကိုင်းမြို့နယ်၊ စစ်ကိုင်းတိုင်းဒေသကြီးအတွင်းရှိ စုစုပေါင်းမြေဧရိယာ(၁၀၀) ဧကကို ငှားရမ်း၍ မျိုးစပါး စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးထွန်းထွန်းဝင်းနှင့် Great Wall-Tomorrow Hi-Tech Agriculture Company Limited တို့ကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ Great Wall International Company Limited နှင့် Jiangsu Mingtian Seeds Science & Technology Company Limited တို့ကြား ချုပ်ဆိုသည့် ဖက်စပ်စာချုပ်နှင့် မြေဆိုင်ရာ အထောက်အထားများအား ပူးတွဲ တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၁၀၀ ဧကအား ငှားရမ်း၍ နှစ်စဉ်မြေငှားရမ်းခမှာ ကျပ် ၁၅.၄၈ ဖြစ်ပြီး (၁) နှစ် တစ်ဧကလျှင် ကျပ် ၁၅၄,၈၀၀ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ်နှင့် ၁၀ နှစ် ၂ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၃ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၅.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ တဖက်ပါအတိုင်း ဖြစ်ပါသည်-